Myanmar Noble Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

Higher National Diploma Level 4 & 5 သင်ကြားသည့် ကောလိပ်

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | ၃၀-၈-၂၀၁၈ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့တင်ပြခြင်း | ၂၆/၂၀၁၈ (၃-၉-၂၀၁၈) | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပညာရေးဝန်ကြီးဌာန<br>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | <br><br><br><br>၂၀-၉-၂၀၁၈<br>၂၀-၉-၂၀၁၈ | <br><br><br><br>၂၅-၉-၂၀၁၈<br>၁-၁၀-၂၀၁၈ | |
| ၄ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၁၃-၉-၂၀၁၈ | | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြ ရမည့်အချက်များ အကြောင်းကြားခြင်း | ၁၃-၉-၂၀၁၈ | | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၇/၂၀၁၈ (၁၂-၁၀-၂၀၁၈) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၄၃) ရက်** | | |

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Myanmar Noble Co., Ltd.

လုပ်ငန်းအမျိုးအစား Higher National Diploma Level 4 & 5 သင်ကြားသည့် ကောလိပ်

PAT အကြိမ်/ ရက်စွဲ ၂၆/၂၀၁၈ (၃-၉-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✔) မပြီး(X) | မှတ်ချက် |
|---|---|---|---|
| ၁။ | ပညာရေးဝန်ကြီးဌာန၏ စံသတ်မှတ်ချက်များနှင့် ကိုက်ညီအောင် ပြင်ဆင်တင်ပြရန်။ | ✔ | |
| ၂။ | မတည်ငွေရင်း၊ လုပ်ငန်းအမျိုးအစား၊ ဝန်ဆောင်မှုပေးမည့် အစီအစဉ်နှင့် ဝန်ဆောင်ခနှုန်းတို့အား တင်ပြရန်။ | ✔ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Noble Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Higher National Diploma Level 4 & 5 သင်ကြားသည့် ကောလိပ် ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Myanmar Noble Co., Ltd.<br>- ဦးမြင့်အောင်<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- Higher National Diploma Level 4 & 5 သင်ကြားသည့် ကောလိပ် |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် ၃/ ၈-၂၊ မြေတိုင်းရပ်ကွက်အမှတ်-၅၁၊ အမှတ် (၆/က)၊ ကြိုးစက်ရုံလမ်း၊ (ခ) ရပ်ကွက်၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက်<br><br><br>မြေ/အဆောက်အအုံ<br>ငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဦးဗိုလ်ဗိုလ်မော် နှင့် ဦးနိုင်ရဲလင်း<br>- ၁.၇၁၅ ဧက (၆,၉၄၀ စတုရန်းမီတာ)<br>- စုစုပေါင်း ၂ လုံး<br>(၃၀ ပေ × ၉၀ ပေ) ၂ ထပ် အဆောက်အဦ ၁ လုံး<br>(၁၃၀ ပေ × ၂၆၀ ပေ) သံဖရိန် အဆောက်အဦ ၁ လုံး<br><br>- အမေရိကန်ဒေါ်လာ ၄၈၆,၀၀၀<br><br>- ၁၂ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - - |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>**ထည့်ဝင်မည့်အမျိုးအစား**<br>ငွေသား<br>မြေ/အဆောက်အဦငှားရမ်းခ<br>အဆောက်အဦဆောက်လုပ်မှု<br>ကုန်ကျစရိတ်<br>ပရိဘောဂနှင့် လုပ်ငန်းသုံး<br>ပစ္စည်း<br>**စုစုပေါင်း** | - ကျပ် ၂,၃၃၅.၄၉ သန်း<br>**ကျပ် (သန်း)**<br>၁,၀၀၀.၀၀<br>၆၀၄.၄၆<br><br>၄၄၆.၂၃<br><br>၂၈၄.၈၀<br>**၂,၃၃၅.၄၉** |



Salient

၇။ နှစ်စဉ်ဝန်ဆောင်မှု

| စဉ် | အမျိုးအမည် | ကာလ | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Foundation | ၃ လ | ၇၈ | ၉၀၀,၀၀၀ |
| (ခ) | Year-1 | ၁၀ လ | ၈၀ | ၃,၀၀၀,၀၀၀ |
| (ဂ) | Year-2 | ၁၀လ | ၇၈ | ၃,၀၀၀,၀၀၀ |
| (ဃ) | Bachelor | ၁၀ လ | ၅၀ | ၉,၀၀၀,၀၀၀ |

၇။ ဝန်ထမ်းခန့်ထားမှု

**သင်ကြားရေး**

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| **ဦးရေ** | ၃၉ ဦး | ၁ ဦး |
| **အမြင့်ဆုံးလစာ** | ကျပ် ၁,၀၀၀,၀၀၀ | အမေရိကန်ဒေါ်လာ |
| **အနိမ့်ဆုံးလစာ** | ကျပ် ၃၀၀,၀၀၀ | ၃,၅၀၀ |

**စီမံခန့်ခွဲရေး**

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| **ဦးရေ** | ၃၅ ဦး | - |
| **အမြင့်ဆုံးလစာ** | ကျပ် ၂,၀၀၀,၀၀၀ | |
| **အနိမ့်ဆုံးလစာ** | ကျပ် ၁၅၀,၀၀၀ | |

၈။ အခြားတင်ပြချက်

- ငွေကြေးအထောက်အထားအဖြစ် CB Bank (သုဝဏ္ဏဘဏ်ခွဲ) တွင် Myanmar Noble Co., Ltd. အမည်ဖြင့် ၃၁-၇-၂၀၁၈ ရက်စွဲတွင် ကျပ် ၅၁၃,၂၀၃,၆၉၇.၆၁ ရှိကြောင်း တင်ပြထားပါသည်။
- မြင့်မြတ်မြန်မာကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ ဝန်ထမ်းများအတွက် လူမှုဖူလုံရေးထည့်ဝင်ထားမှုများ တင်ပြထားပါသည်။
- အဆောက်အဦ Layout Plan၊ ဆရာ/မများ၏ ပညာအရည်အချင်း အထောက်အထားများနှင့် ရပ်ကွက်ထောက်ခံချက်များအား တင်ပြထားပါသည်။
- ပေးအပ်ချီးမြှင့်မည့် Diploma၊ Certificate နမူနာများ၊ သင်ရိုးညွှန်းတမ်းနှင့် သင်ကြားပေးမည့် အစီအစဉ်များအား တင်ပြထားပါသည်။
- ကုမ္ပဏီသည် Myanmar Noble College အမည်ဖြင့် UK နိုင်ငံမှ အသက်မွေးဝမ်းကျောင်းပညာရေးဆိုင်ရာ ပညာရေးအဖွဲ့အစည်းတစ်ခုဖြစ်သော Pearson မှ အသိအမှတ်ပြုထားသော Higher National

| | | |
|---|---|---|
| | | Diplomaများအား သင်ကြားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် အမျိုးသားပညာရေးဥပဒေ (၂၀၁၄)၊ အမျိုးသားပညာရေးဥပဒေ ပြင်ဆင်ချက် (၂၀၁၅) နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့် National Assessment Policy တို့အား လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးဗိုလ်ဗိုလ်မော်နှင့် ဒါရိုက်တာအဖွဲ့ဝင် ဦးနေဝင်းတို့ ချုပ်ဆိုထားသည့် ၁၂ နှစ် သက်တမ်းရှိ မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ် တင်ပြထားပါသည်။ |
| ၉။ | စိစစ်တင်ပြချက် | - ကုမ္ပဏီသည် အဆိုပါ Myanmar Noble College အား ၂၀၁၁ ခုနှစ်တွင် စတင်ဖွင့်လှစ်ခဲ့ပြီး လုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။<br>- ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အားဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/ခ-၁၁၇/ ၂၀၁၈( ၃၅၁ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Noble Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Higher National Diploma Level 4 & 5 သင်ကြားသည့်ကောလိပ် ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Noble Co., Ltd. မှ မြေကွက်အမှတ် ၃/ ၈-၂၊ မြေတိုင်းရပ်ကွက်အမှတ်-၅၁၊ အမှတ်(၆/က)၊ ကြိုးစက်ရုံလမ်း၊ (ခ) ရပ်ကွက်၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၁.၇၁၅ ဧကတွင် Higher National Diploma Level 4 & 5 သင်ကြားသည့်ကောလိပ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတင်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုလွှာတင်ထားလွှာနှင့်အတူ Myanmar Noble Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ဆရာ/မများ၏ ပညာအရည်အချင်း အထောက်အထားများ၊ သင်ရိုးညွှန်းတမ်း၊မြေပိုင်ရှင် ဦးဗိုလ်ဗိုလ်မော်နှင့် ဒါရိုက်တာအဖွဲ့ဝင် ဦးနေဝင်းတို့ ချုပ်ဆိုထားသည့် ၁၂ နှစ် သက်တမ်းရှိ မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၂,၃၃၅.၄၉ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|
| ငွေသား | ၁,၀၀၀.၀၀ |
| မြေ/အဆောက်အဦငှားရမ်းခ | ၆၀၄.၄၆ |
| အဆောက်အဦဆောက်လုပ်မှုကုန်ကျစရိတ် | ၄၄၆.၂၃ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | ၂၈၄.၈၀ |
| **စုစုပေါင်း** | **၂,၃၃၅.၄၉** |

၄။ လုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၃၉ ဦး နှင့် ပြည်ပဝန်ထမ်း ၁ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း၏လစာမှာ အမေရိကန်

ဒေါ်လာ ၃,၅၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၃၅ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **စဉ်** | **အမျိုးအမည်** | **ကာလ** | **ကျောင်းသား ဦးရေ** | **ဝန်ဆောင်ခနှုန်း (ကျပ်)** |
|---|---|---|---|---|
| (က) | Foundation | ၃ လ | ၇၈ | ၉၀၀,၀၀၀ |
| (ခ) | Year-1 | ၁၀ လ | ၈၀ | ၃,၀၀၀,၀၀၀ |
| (ဂ) | Year-2 | ၁၀လ | ၇၈ | ၃,၀၀၀,၀၀၀ |
| (ဃ) | Bachelor | ၁၀ လ | ၅၀ | ၉,၀၀၀,၀၀၀ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၈ ခုနှစ် စက်တင်ဘာလ ၂၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၃၇/၂၀၁၈၊ ဆုံးဖြတ်ချက်အပိုဒ် ၄၅ အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားခဲ့ပါသည်။

(ခ) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် CB Bank (သုဝဏ္ဏဘဏ်ခွဲ) တွင် Myanmar Noble Co., Ltd. အမည်ဖြင့် ၃၁-၇-၂၀၁၈ ရက်စွဲတွင် ကျပ် ၅၁၃,၂၀၃,၆၉၇.၆၁ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကုမ္ပဏီသည် အဆိုပါ Myanmar Noble College အား ၂၀၁၁ ခုနှစ်တွင် စတင်ဖွင့်လှစ်ခဲ့ပြီး လုပ်ငန်းများ ဆောင်ရွက်လျက်ရှိကြောင်း တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Noble Co., Ltd. မှ Higher National Diploma Level 4 & 5 သင်ကြားသည့်ကောလိပ်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ-က




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀.၉.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၁၇ / ၂၀၁၈ (၃၂၂)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မြင့်မြတ်မြန်မာကုမ္ပဏီလီမိတက်မှ အမှတ်(၆/က)၊ ကြိုးစက်ရုံလမ်း၊ (ခ)ရပ်ကွက်၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၁.၇၁၅ ဧကတွင် Higher National Diploma Level 4 & 5 သင်ကြားသည့် ကောလိပ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၇.၉.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၄၅)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
သဃ်န်းကျွန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မြင့်မြတ်မြန်မာကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

D/2018/Cabinet 34(3)

နောက်ဆက်တွဲ-ခ

| | |
|---|---|
| ဝင်စာအမှတ် | M4-0951 |
| ရက်စွဲ | 27.9.2018 |

MDP-3727
26.9.18



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပညာရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ် ၊ မူဝါဒ(သဘောထားမှတ်ချက်)၁၉၅၆/၂၀၁၈(၁၅၂၄၆)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ( ၂၅ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀-၉-၂၀၁၈)ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၁၇ / ၂၀၁၈ (၃၂၁)
(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မြင့်မြတ်မြန်မာကုမ္ပဏီလီမိတက်မှ အမှတ်(၆/က)၊ ကြိုးစက်ရုံလမ်း၊ (ခ)ရပ်ကွက်၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၁.၇၁၅ ဧကတွင် Higher National Diploma Level 4 & 5 သင်ကြားသည့် ကောလိပ်တွင် လုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပညာရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် ပေးပို့ခဲ့ပြီးဖြစ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(ကက) နိုင်ငံသား၊

(ခခ) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(ဂဂ) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့် အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိက ကျောင်းဆရာများ၏ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံ များနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိက ကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံး နေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက် အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက် အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(၃) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(ကက) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများ သည်ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိခြင်း၊

(ခခ) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(ဂဂ) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဃ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၂) (က)မှ (ထ)ရှိ အချက်အလက်များဖြင့် မဖြစ်မနေ စိစစ်ရန် လိုအပ်ပါသဖြင့် ပညာရေး ဝန်ကြီးဌာနသို့ အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်ပါရန် ပြန်ကြားခဲ့ပြီးပါသည်-

ဒေါက်တာကျော်နိုင်
ဒုတိယအမြဲတမ်းအတွင်းဝန်
ပညာရေးဝန်ကြီးဌာန
ဖုန်း- ၀၆၇ ၄၀၇၁၁၆
အီးမေးလ် - drkyawnaing2009@gmail.com

၄။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၁)ပါကိစ္စနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်းနှင့်ပညာရေးဝန်ဆောင်မှုဆိုင်ရာ လုပ်ငန်းများနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်း ပြန်ကြားအပ်ပါသည်။

Kyaw Naing
25-9-18

ဒုတိယဝန်ကြီး (ကိုယ်စား)
( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ/ မျှောစာတွဲ

D:\Ni Ni\Ni Ni memo(Aug).docx